ကုမ္ပဏီအမည် - Myanmar Agri Foods Co., Ltd.

လုပ်ငန်း - ဟင်းသီးဟင်းရွက်အား အေးခဲ ထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း

| စဉ် | အကြောင်းအရာ | ဆောင်ရွက်သည့် နေ့စွဲ | ပြန်ကြားချက်ရရှိသည့်နေ့စွဲ | မှတ်ချက် |
|---|---|---|---|---|
| ၁ | အဆိုပြုလွှာလက်ခံရရှိခြင်း | ၃-၁၁-၂၀၁၅ | | |
| ၂ | PAT တင်ပြခြင်း | ၉-၁၁-၂၀၁၅ | | |
| ၃ | PAT လက်ခံကြောင်းပြန်ကြားခြင်း | ၁၆-၁၁-၂၀၁၅ | | |
| ၄ | သဘောထားမှတ်ချက်တောင်းခံခြင်း | | | |
| | (က) ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန | ၁၈-၁၁-၂၀၁၅ | ၂-၁၂-၂၀၁၅ | |
| | (ခ) နေပြည်တော်ကောင်စီ | ၁၈-၁၁-၂၀၁၅ | | |
| | (ဂ) စက်မှုဝန်ကြီးဌာန | ၁၈-၁၁-၂၀၁၅ | ၃-၁၂-၂၀၁၅ | |
| | (ဃ) လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာန | ၁၈-၁၁-၂၀၁၅ | ၄-၁၂-၂၀၁၅ | |
| ၅ | ကုမ္ပဏီ မှပြင်ဆင်ချက် | | | |
| ၆ | အဆိုပြုလုပ်ငန်းအားမြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ( /၂၀၁၅)ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခြင်း | | | |
| | စုစုပေါင်းကြာမြင့်ချိန် | ၃၈ ရက် | | |

အကြောင်းအရာ။ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာအဂရီဖုဒ်(စ်) ကုမ္ပဏီ လီမိတက် (Myanmar Agri Foods Co., Ltd.) မှ ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်း ကိစ္စ

| | | |
|---|---|---|
| ၁ | ကုမ္ပဏီ/ကမကထပြုသူ အမည် | - Myanmar Agri Foods Co., Ltd<br>- ဦးရဲမြင့်မောင် |
| | အဖွဲ့အစည်းပုံသဏ္ဌာန် | - ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု<br>- Myanmar Belle Co., Ltd. ၃၀%<br>-(Incorporated in Myanmar)<br>- Kyoka Shokuhin Co., Ltd. ၃၀%<br>-(Incorporated in Japan)<br>-Shin-Shin Foods Co., Ltd. ၃၀%<br>-(Incorporated in Japan)<br>- Retail Branding Co., Ltd. ၅%<br>-(Incorporated in Japan)<br>-ထိုင်ဝမ်နိုင်ငံမှ စီးပွားရေးလုပ်ငန်းရှင်<br>-Mr.Yu Te Yang ၅% |
| | လုပ်ငန်းအမျိုးအစား | - ဟင်းသီးဟင်းရွက်အားအေးခဲထုတ်လုပ်၍ဖြန့်ဖြူးရောင်းချခြင်း လုပ်ငန်း |
| ၂ | တည်နေရာ | နေပြည်တော်၊ ဒက္ခိဏခရိုင်၊ ပျဉ်းမနားမြို့နယ်၊ ကျီအင်းကျေးရွာအုပ်စု၊ မြို့ရောင်လမ်းမကြီးဘေးရှိ၊ ဘိုးပြောင်ကုန်း၊ ကွင်းအမှတ်(၁၇၀၉)၊ ဦးပိုင်အမှတ် (က၃/၁၄၊ က၃/၂၄၊ က၉/၁၊ က၉/၂၊ က၉/၃၊ က၉/၄၊ က၉/၅၊ ခ၉/၂၊ ခ၉/၃၊ ခ၁၀/၁၊ ခ၁၀/၂)ရှိစုစုပေါင်းမြေ (၁၆.၈၉ဧက) |
| | မြေပိုင်ရှင် | - Myanmar Belle Co., Ltd |
| | မြေအကျယ်အဝန်း | - ၁၆.၈၉ ဧက (၆၈.၃၅၁ စတုရန်းမီတာ) |
| ၃ | မြေနှင့် အဆောက်အဦငှားရမ်းခနှုန်း | -နှစ်စဉ်မြေငှားရမ်းခ USD ၃၃၇၈၀<br>(တစ်နှစ်-တစ်စတုရန်း မီတာ USD ၀.၅ |
| | လုပ်ငန်းသက်တမ်း | -၃၀ နှစ် |

| | | |
|---|---|---|
| ၄ | တည်ဆောက်ရေးကာလ<br>မြေငှားရမ်းကာလ<br>စုစုပေါင်းရင်းနှီးမြှုပ်နှံမှု<br>ထည့်ဝင်သည့်အမျိုးအစား | - ၁နှစ်<br>- ၂၀ နှစ် နှင့်သက်တမ်းတိုး၁၀နှစ်၂ ကြိမ်<br>-USD ၃.၀၀ million |

US$ သန်းပေါင်း

| စဉ် | ရင်းနှီးမြှုပ်နှံမှု ပမာဏ | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| ၁။ | In Cash | | ၀.၀၆ | ၀.၀၆ |
| ၂။ | Machinery & Equipment(Loan) | | ၂.၀၀ | ၂.၀၀ |
| ၃။ | Building (Capital) | ၀.၁၂ | ၀.၂၉ | ၀.၄၁ |
| ၄။ | Building (Loan) | | ၀.၅၀ | ၀.၅၀ |
| ၅။ | Lease Rental Fees | ၀.၀၃ | | ၀.၀၃ |
| | **Total** | **၀.၁၅** | **၂.၈၅** | **၃.၀၀** |

| | | |
|---|---|---|
| ၆။ | ဝန်ထမ်းအင်အား<br>ပြည်တွင်း | - **၁၈၄ ဦး**<br>- ၁၈၀ဦး (အမြင့်ဆုံးလစာမှာ USD ၈၀၀ ဖြစ်ပြီး အနိမ့်ဆုံး လစာမှာ USD ၁၁၀ ဖြစ်ပါသည်။)<br>- ၄ ဦး (အမြင့်ဆုံးလစာမှာ USD ၂,၀၀၀ ဖြစ်ပြီး အနိမ့်ဆုံး လစာမှာ USD ၁,၅၀၀ ဖြစ်ပါသည်။) |
| ၇။ | ရောင်းချမည့်စနစ်<br>နှစ်စဉ်ထုတ်လုပ်မှု<br>(၆ နှစ်မြောက်) | - ၁၀၀% ပြည်ပတင်ပို့မည် ဖြစ်ပါသည်။ |

| No. | Frozen Vegetable | Price (USD/ Ton) | Ton |
|---|---|---|---|
| ၁။ | Spinach | 1430 | 1800 |
| ၂။ | Taro | 1430 | 1600 |
| ၃။ | Okra | 1430 | 600 |
| ၄။ | Pumpkin | 1430 | 400 |
| ၅။ | Long Bean | 1430 | 400 |
| ၆။ | Asparagus | 1430 | 200 |

| | | |
|---|---|---|
| ၈။ | (၆ နှစ်မြောက်)ဝင်ငွေ | - အမေရိကန်ဒေါ်လာ ၇.၁၅၀ သန်း |
| | အသုံးစရိတ် | - အမေရိကန်ဒေါ်လာ ၆.၆၉၉ သန်း |
| | အသားတင်အမြတ် | - အမေရိကန်ဒေါ်လာ ၀.၄၅၁ သန်း |
| ၉။ | နိုင်ငံတော်မှရရှိမည့် အကျိုးအမြတ် | |
| | ဝင်ငွေခွန် | - အမေရိကန်ဒေါ်လာ ၀.၁၅၀ သန်း |
| | အရင်းကြေကာလ | - ၃ နှစ် ၈ လ |
| | အရင်းအနှီးအပေါ်အကျိုး အမြတ်ပြန်ပေါ်နှုန်း (IRR) | - ၃၂.၈၂ % |
| ၁၀။ | လျှပ်စစ်ဓါတ်အားသုံးစွဲမှု(နှစ်စဉ်) | - ၂၃၃၃၄၀ Unit |
| | ငွေကြေးအထောက်အထား | - ငွေကြေးအထောက်အထားအဖြစ် Kyoka Shokuhin Co., Ltd.(Japan) သည် Mizuho Bank Ltd. တွင် (၃၀-၁၂-၂၀၁၄) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁,၄၉၃,၉၈၄.၉၈ ရှိကြောင်း၊ Shin-Shin Foods Co., Ltd. (Japan)သည် The Gunma Bank Ltd.တွင်(၂၉-၁၀-၂၀၁၅) ရက်စွဲဖြင့် JPY ၁၂၉,၇၅၇,၁၇၀ (အမေရိကန်ဒေါ်လာ ၁.၂၉၇ သန်း) ရှိကြောင်း၊ Retail Branding Co., Ltd. (Japan) သည် Mizuho Bank Ltd. တွင် ၂၅-၁၂-၂၀၁၄ ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၂,၃၈၀,၉၃၃.၀၀ ရှိကြောင်း၊ Mr.Yang Yu Te သည် Taiwan Cooperative Bank တွင် (၇-၁-၂၀၁၅) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၂,၁၂၈,၂၀၄.၀၀ သန်းရှိကြောင်း၊ Myanmar Belle Co., Ltd. သည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေးဘဏ်တွင် (၁၆-၇-၂၀၁၅) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၆၂,၃၇၅.၀၆ သန်း ရှိကြောင်း တင်ပြထားပါသည်။ |
| ၁၁။ | အခြားတင်ပြချက် | မြေအထောက်အထားဖြင့် Myanmar Belle Co., Ltd. ၏ ဒါရိုက်တာဖြစ်သူ (ဦးရဲမြင့်မောင်) အမည်ဖြင့် နေပြည်တော်ကောင်စီမှ ခွင့်ပြုထားသော လယ်မြေမှတပါး လယ်ယာမြေအား အခြားနည်းလမ်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်ကို တင်ပြ ထားပါသည်။ |

| | | |
|---|---|---|
| ကုမ္ပဏီအမည် | - | Myanmar Agri Foods Co., Ltd. |
| အဖွဲ့အစည်းပုံသဏ္ဌာန် | - | ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု |
| လုပ်ငန်းအမျိုးအစား | - | ဟင်းသီးဟင်းရွက်အား အေးခဲ ထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| တည်နေရာ | - | နေပြည်တော်၊ ဒက္ခိဏာခရိုင်၊ ပျဉ်းမနားမြို့နယ်၊ ကျီအင်းကျေးရွာအုပ်စု၊ မြို့ရှောင်လမ်းမကြီးဘေးရှိ၊ ဘိုးပြောင်ကုန်း၊ ကွင်းအမှတ်(၁၇၀၉)၊ ဦးပိုင်အမှတ်(က ၃/၁၄၊ က၃/၂၄၊ က၉/၁၊ က၉/၂၊ က၉/၃၊ က၉/၄၊ က၉/၅၊ ခ၉/၂၊ ခ၉/၃၊ ခ၁၀/၁၊ ခ၁၀/၂)ရှိ စုစုပေါင်းမြေ (၁၆.၈၉ဧက) |
| စုစုပေါင်းရင်းနှီးမြှုပ်နှံမှု | - | USD ၃.၀၀ million |
| ရောင်းချမည့်စနစ် | - | ၁၀၀% ပြည်ပတင်ပို့မည် ဖြစ်ပါသည်။ |
| လုပ်ငန်းသက်တမ်း | - | ကနဦး ၃၀ နှစ် နှင့် နောက်ထပ် (၁၀) နှစ် သက်တမ်းတိုးနှစ်ကြိမ် |
| အရင်းကြေကာလ | - | ၃ နှစ် ၈ လ |
| IRR | - | ၃၂.၈၂ % |

အထက်ပါလုပ်ငန်းဆောင်ရွက်ခြင်းဖြင့် နိုင်ငံတော်၏ Cost & Benefit ကို အောက်ပါဇယားဖြင့် ပြုစု တင်ပြအပ်ပါသည်-

| စဉ် | အကြောင်းအရာ | Cost | Benefit |
|---|---|---|---|
| ၁ | နိုင်ငံ့ဝန်ထမ်း၏လစာ | ကျပ် ၁.၅၄၈ သန်း (တစ်နှစ်) | |
| ၂ | ကုမ္ပဏီမှတ်ပုံတင်ကြေး | - | ကျပ် ၁.၁၆၅ သန်း |
| ၃ | သွင်းကုန်အခွန်ကင်းလွတ်ခွင့် | ကျပ် ၁၀၀ သန်း | |
| ၄ | ဝင်ငွေခွန် | ကျပ် ၇၈၅.၃၈ သန်း | ကျပ် ၆၀၂.၄၀ သန်း |
| ၅ | ကုန်သွယ်လုပ်ငန်းခွန် | | ကျပ် ၄၃၃၁ သန်း |
| ၆ | ရေ၊ လျှပ်စစ်မီးသုံးစွဲခ | | ကျပ် ၃,၆၆၉.၃၀ သန်း |
| ၇ | လုပ်ခလစာအပေါ်ဝင်ငွေခွန် | | တစ်နှစ်ဝင်ငွေကျပ်သိန်းနှစ်ဆယ် ထက်ကျော်ပါကအခွန်ဆောင်ရမည့်ဝန်ထမ်း (၁၈၄)ဦး |
| ၈ | CSR (၁ %) | | ကျပ် ၈၀.၉၁ သန်း |
| ၉ | အလုပ်အကိုင်အခွင့်အလမ်း | | ပြည်တွင်း ၁၈၀ ဦး ပြည်တွင်းလုပ်သား (၁၈၀) ဦး အလုပ်အကိုင်ရရှိမည်ဖြစ်၍ဒေသအလုပ်အကိုင်အခွင့်အလမ်းနှင့်ဒေသစီးပွားရေးဖွံ့ဖြိုးတိုးတက်မှုကိုအထောက်အကူပြုစေပါသည်။ |
| | | ကျပ် ၈၈၆.၉၃ သန်း | ကျပ် ၅၀၁၅.၄၈ သန်း |
| | Cost & Benefit | ၁ : ၆ | |

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

စာအမှတ်၊ ရက - ၂/ န-၁၃၉/ ၂၀၁၅ ( ၈၇၄ )

ရက်စွဲ ၊ ၂၀၁၅ ခုနှစ် ဒီဇင်ဘာလ ၂၀ ရက်

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်သို့**
**တင်ပြသည့်အမှာစာ**

အကြောင်းအရာ။ **ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Agri Foods Co., Ltd. ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်း ဆောင်ရွက်ခွင့် ပြုပါရန် အဆိုပြု တင်ပြ လာခြင်းကိစ္စ**

၁။ Myanmar Belle Co., Ltd. (Incorporated in Myanmar) မှ ၃၀%၊ Kyoka Shokuhin Co., Ltd. မှ ၃၀% (Incorporated in Japan)၊ Shin-Shin Foods Co., Ltd. မှ ၃၀% (Incorporated in Japan) Retail Branding Co., Ltd. မှ ၅% (Incorporated in Japan) နှင့် ထိုင်ဝမ်နိုင်ငံမှ စီးပွားရေးလုပ်ငန်းရှင် Mr.Yu Te Yang ၅% တို့ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် ကွင်းအမှတ်(၁၇၀၉)၊ ဘိုးပြောင်ကုန်း၊ မြို့ရှောင်လမ်းမကြီးဘေးရှိ၊ ကျီအင်းကျေးရွာ၊ ပျဉ်းမနားမြို့နယ်၊ ဒက္ခိဏခရိုင်၊ နေပြည်တော် ဦးပိုင်အမှတ် (က၃/၁၄၊ က၃/၂၄၊က၉/၁၊က၉/၂၊က၉/၃၊က၉/၄၊ က၉/၅၊ ခ၉/၂၊ ခ၉/၃၊ ခ၁၀/၁၊ခ၁၀/၂)ရှိမြေ (၁၆.၈၉) ဧကတွင် ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းကို ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံ ရင်းနှီးမြှုပ်နှံမှု ကော်မရှင် သို့ အဆိုပြု တင်ပြလာပါသည်။

၂။ လုပ်ငန်းဆောင်ရွက်မည့် မြေဧရိယာမှာ ၁၆.၈၉ ဧက (၆၈.၃၅၁ စတုရန်းမီတာ) ဖြစ်ပြီး Myanmar Belle Co., Ltd. ၏ ဒါရိုက်တာဖြစ်သူ ဦးရဲမြင့်မောင်အမည်ဖြင့် နေပြည်တော်ကောင်စီမှ လယ်မြေမှ တပါး လယ်ယာမြေအား အခြားနည်းဖြင့် အသုံးပြုရန် ခွင့်ပြုမိန့်ရရှိထားပါသော မြေကို ငှားရမ်းလုပ်ကိုင်မည် ဖြစ်ပါသည်။ ၎င်းမြေငှားရမ်းခမှာ တစ်နှစ်လျှင် တစ်စတုရန်းမီတာ USD ၀.၅ ဖြစ်ပြီး နှစ်စဉ်မြေငှားရမ်းခမှာ USD ၃၃၇၈၀ ဖြစ်ပါသည်။

၃။ လုပ်ငန်းစီမံကိန်း ကာလမှာ ကနဦး ၃၀ နှစ်နှင့် သက်တမ်းတိုး ၁၀နှစ် နှစ်ကြိမ် ဖြစ်ပြီး၊ တည်ဆောက်ရေးကာလ ၁ နှစ် ကြာမြင့်မည် ဖြစ်ကြောင်း တင်ပြထားပါသည်။

၄။ လုပ်ငန်း၏ ရင်းနှီးမြှုပ်နှံမှု ပမာဏမှာ ချေးငွေ USD ၂.၅၀ သန်း အပါအဝင် တစ်ဖက်ပါအတိုင်း ဖြစ်ပါသည်-

အမေရိကန်ဒေါ်လာသန်းပေါင်း

| စဉ် | ရင်းနှီးမြှုပ်နှံမှု ပမာဏ | ပြည်တွင်း | ပြည်ပ | စုစုပေါင်း |
|---|---|---|---|---|
| ၁။ | In Cash | | ၀.၀၆ | ၀.၀၆ |
| ၂။ | Machinery & Equipment(Loan) | | ၂.၀၀ | ၂.၀၀ |
| ၃။ | Building (Capital) | ၀.၁၂ | ၀.၂၉ | ၀.၄၁ |
| ၄။ | Building (Loan) | | ၀.၅၀ | ၀.၅၀ |
| ၅။ | Lease Rental Fees | ၀.၀၃ | | ၀.၀၃ |
| | **Total** | **၀.၁၅** | **၂.၈၅** | **၃.၀၀** |

၅။ Myanmar Agri Foods Co., Ltd. သည် Kyoka Shokuhin Co., Ltd. ထံမှ ချေးငွေ USD ၂.၅ သန်း (JPY - ၃၀၀ သန်း) ကို အတိုးနှုန်း ၃.၅ ရာခိုင်နှုန်းဖြင့် (၄) နှစ်တာ ကာလ ချေးယူမည် ဖြစ်ပါသည်။ ချေးငွေနှင့် ပတ်သက်၍ မြန်မာနိုင်ငံတော် ဗဟိုဘဏ်မှ ခွင့်ပြုကြောင်း ထောက်ခံချက်အား တင်ပြ ထားပါသည်။

၆။ လုပ်ငန်းဆောင်ရွက်ရန် ပြည်တွင်းဝန်ထမ်းဦးရေ (၁၈၀) ဦးနှင့် ပြည်တွင်းဝန်ထမ်း၏ အနိမ့်ဆုံး လစာမှာ USD ၁၁၀ ဖြစ်ပြီး အမြင့်ဆုံး လစာမှာ USD ၈၀၀ ဖြစ်ပါသည်။

၇။ အဆိုပြုလုပ်ငန်းမှ ထုတ်ကုန်များကို ပြည်တွင်းတွင်(၁၀၀%) ရောင်းချမည် ဖြစ်ပါသည်။ ပုံမှန်နှစ်တွင်နှစ်စဉ်ဝန်ဆောင်မှုနှင့် ပြည်တွင်းရောင်းဈေးနှုန်းမှာ အောက်ပါအတိုင်း ဖြစ်ပါသည်။

| စဉ် | အကြောင်းအရာ | Price (USD/Ton) | Ton |
|---|---|---|---|
| ၁။ | Spinach | 1430 | 1800 |
| ၂။ | Taro | 1430 | 1600 |
| ၃။ | Okra | 1430 | 600 |
| ၄။ | Pumpkin | 1430 | 400 |
| ၅။ | Long Bean | 1430 | 400 |
| ၆။ | Asparagus | 1430 | 200 |

၈။ လုပ်ငန်းကို ဆောင်ရွက်ခြင်းဖြင့် ပုံမှန်နှစ်တွင် ရရှိမည့် ဝင်ငွေ နှင့် အသုံးစရိတ် ခန့်မှန်းခြေမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) ဝင်ငွေ - အမေရိကန်ဒေါ်လာ ၇.၁၅၀ သန်း

(ခ) အသုံး စရိတ် - အမေရိကန်ဒေါ်လာ ၆.၆၉၉ သန်း

(ဂ) အသားတင်အမြတ် - အမေရိကန်ဒေါ်လာ ၀.၄၅၁ သန်း

၉။ နိုင်ငံတော်မှ ပုံမှန်နှစ်တွင် ရရှိမည့် အကျိုးအမြတ် ခန့်မှန်းခြေမှာ ဝင်ငွေခွန် (၂၅%) အမေရိကန်ဒေါ်လာ ၀.၁၅၀ သန်း ဖြစ်ပါသည်။

၁၀။ လုပ်ငန်း၏ အရင်းကြေကာလမှာ (၃)နှစ် ၈ လ ဖြစ်ပြီး အရင်းအနှီးအပေါ် အကျိုးအမြတ် ပြန်ပေါ်နှုန်း (IRR) မှာ (၃၂.၈၂) ရာခိုင်နှုန်း ဖြစ်ပါသည်။

၁၁။ အဆိုပြုလုပ်ငန်းနှင့် ပတ်သက်၍ အောက်ပါအတိုင်း သဘောထားမှတ်ချက်များ ပြန်ကြား ထားပါသည်-

(က) **နေပြည်တော်ကောင်စီ** မှ ရင်းနှီးမြှုပ်နှံမှုပြုလုပ်မည့် နေရာသည် မြို့ပြစီမံကိန်းနှင့် ညီညွတ်မှုရှိပါကြောင်း၊ ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်မှု မရှိပါကြောင်း၊ မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှု အတွက် အထောက်အကူပြုပါကြောင်း၊ Myanmar Agri Foods Co., Ltd.မှ ပျဉ်းမနားမြို့နယ်၊ ကျီးအင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၇၀၉၊ ကွင်းအမည်-ဘိုးပြောင်ကုန်း၊ မြို့ရှောင်လမ်းမကြီးဘေးရှိ ဦးပိုင်အမှတ် (က၃/၁၄၊ က၃/၂၄၊ က၉/၁၊က၉/၂၊က၉/၃၊က၉/၄၊ က၉/၅၊ ခ၉/၂၊ ခ၉/၃၊ ခ၁၀/၁၊ခ၁၀/၂) ရှိစုစုပေါင်းမြေ ဧရိယာ(၁၆.၈၉)ဧက ပေါ်တွင် ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်းအား တင်ပြခြင်းအပေါ် အဆင့်ဆင့် စိစစ်ခဲ့ပြီး မြေနေရာအား စနစ်တကျ ခွင့်ပြုခဲ့မှုကြောင့် နေပြည်တော် ကောင်စီအနေဖြင့် ကန့်ကွက်ရန် မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြား ထားပါသည်။

နောက်ဆက်တွဲ-က

(ခ) **ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သစ်တောရေးရာဝန်ကြီးဌာန** မှအဆိုပြုလုပ်ငန်း ကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာ

ဖော်ပြပြီး လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှု အနည်းဆုံး ဖြစ်စေမည့် ကုန်ထုတ်လုပ်မှုနည်းစနစ်များ အသုံးပြုခြင်းနှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု (CSR) လုပ်ငန်းများအတွက် စုစုပေါင်း အမြတ်ငွေ၏ (၁%) အား အသုံးပြုခြင်းရန် အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်း စီမံချက်များ အတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊လူမှုရေးနှင့် ကျန်းမာရေး ထိခိုက်ပျက်ဆီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင်အထည်မဖော်မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း(Initial Environmental Examination-IEE) ဆောင်ရွက်ရန်နှင့် IEE အစီရင်ခံစာ တင်ပြရန်၊ပတ်ဝန်းကျင်နှင့် လူမှုရေးဆိုင်ရာထိခိုက်မှု အနည်းဆုံး ဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း/စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ်၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ်၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ၊ စသည့်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီအစဉ် (Environmental Management Plan-EMP)ကို ရေးဆွဲတင်ပြရန်နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်ရန်၊ ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင် ထိန်းသိမ်းရေးဥပဒေ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီလိုက်နာကျင့်သုံးအကောင်အထည်ဖော်ဆောင်ရွက်ရန် သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ-ခ**

(ဂ) **လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန** မှ အဆိုပြုလုပ်ငန်း နှင့် စပ်လျဉ်း၍ ကန့်ကွက်ရန်မရှိပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

**နောက်ဆက်တွဲ - ဂ**

(ဃ) **စက်မှုဝန်ကြီးဌာန** မှ လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံး မပြုမီစစ်ဆေးဆောင်ရွက်ရန်၊ မီးဘေးအန္တရာယ် ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့ အတွက်သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျဆောင်ရွက်ရန်၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန်၊ အစားအသောက်နှင့် ဆေးဝါး

ကွပ်ကဲရေးဦးစီးဌာန၏ ညွှန်ကြားချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန်၊ သဘောထားမှတ်ချက် ပြန်ကြားထားပါသည်။

နောက်ဆက်တွဲ-ဃ

၁၂။ ငွေရေးကြေးရေး အထောက်အထားအဖြစ် ငွေကြေးအထောက်အထားအဖြစ် Kyoka Shokuhin Co., Ltd.(Japan) သည် Mizuho Bank Ltd. တွင် (၃၀-၁၂-၂၀၁၄) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁,၄၉၃,၉၈၄.၉၈ ရှိကြောင်း၊ Shin-Shin Foods Co., Ltd. (Japan)သည် The Gunma Bank Ltd.တွင်(၂၉-၁၀-၂၀၁၅) ရက်စွဲ ဖြင့် JPY ၁၂၉,၇၅၇,၁၇၀ (အမေရိကန်ဒေါ်လာ ၁.၂၉၇ သန်း) ရှိကြောင်း၊ Retail Branding Co., Ltd. (Japan) သည် Mizuho Bank Ltd. တွင် ၂၅-၁၂-၂၀၁၄ ရက်စွဲ ဖြင့်အမေရိကန်ဒေါ်လာ ၁၂,၃၈၀,၉၃၃.၀၀ ရှိကြောင်း၊ Mr.Yang Yu Te သည် Taiwan Cooperative Bank တွင် (၇-၁-၂၀၁၅) ရက်စွဲဖြင့် အမေရိကန်ဒေါ်လာ ၁၂,၁၂၈,၂၀၄.၀၀ သန်း ရှိကြောင်း၊ Myanmar Belle Co., Ltd.သည် မြန်မာ့ရင်းနှီးမြှုပ်နှံမှုနှင့် ကူးသန်းရောင်းဝယ်ရေး ဘဏ်တွင် (၁၆-၇-၂၀၁၅)ရက်စွဲဖြင့် အမေရိကန် ဒေါ်လာ ၆၂,၃၇၅.၀၆ သန်းရှိကြောင်း တင်ပြ ထားပါသည်။ Myanmar Agri Foods Co., Ltd.၏ MOA AOA မူကြမ်း၊ ကုမ္ပဏီ မှတ်ပုံတင် အထောက်အထားများ၊ ပုံစံ၆၊ ပုံစံ၂၆ နှင့် ဒါရိုက်တာအဖွဲ့ဝင်များ၏ မှတ်ပုံတင် မိတ္တူများအား တင်ပြထားပါသည်။

၁၃။ အဆိုပြုလုပ်ငန်းသည် မီးဘေးကာကွယ်ရေးစီမံချက်၊ အလုပ်အကိုင်သစ်များ ပေါ်ပေါက်လာမည့်အခြေအနေ၊ လုပ်ငန်းခွင်သာယာရေးနှင့် ဝန်ထမ်းသက်သာချောင်ချိရေး စီမံချက်နှင့် ကျန်းမာရေးစောင့်ရှောက်မှုအစီအစဉ်များ၊ လစာခွန် ပေးဆောင်မည်ဖြစ်ကြောင်း ဝန်ခံကတိ ပြုခြင်း၊ ပတ်ဝန်းကျင် ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေး စီမံချက်အစီအစဉ်နှင့် စက်ရုံမှ မီးခိုးမည်း မထွက်စေရန် စီမံချက်၊ လုပ်ငန်းသဘောသဘာဝ၊ လျှပ်စစ်ဓာတ်အား ရယူသုံးစွဲမည့် အစီအစဉ်များကို တင်ပြထားပါသည်။

၁၄။ ကုမ္ပဏီမှ လုပ်ငန်းလုပ်ဆောင်၍ ရရှိလာသည့် အမြတ်ငွေ၏ ၂% ကို Cooperate Social Responsibility (CSR) လုပ်ငန်းတွင် ထည့်ဝင်မည်ဖြစ်ကြောင်း ဝန်ခံကတိ တင်ပြထားပါသည်။

၁၅။ ကုမ္ပဏီမှ စက်ရုံမီးဘေးကာကွယ်ရေးစီမံချက်၊ ဝန်ထမ်းလစာများ နှင့် ပတ်သက်၍ သတ်မှတ်နှုန်းထားများအတိုင်း အခွန်ပေးဆောင်မှု ကတိဝန်ခံချက်၊ ကုမ္ပဏီ၏ ခွင့်ပြုမတည် ငွေရင်း

တိုးမြှင့်ခြင်းနှင့် ပတ်သက်၍ ဝန်ခံကတိပြု တင်ပြခြင်းနှင့် ပတ်ဝန်းကျင် ညစ်ညမ်းမှု မရှိစေရန် ကာကွယ်မှုအစီအစဉ်၊ အခွန်ကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို တင်ပြထားပါသည်။

၁၆။ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေပါ အခွန်ဆိုင်ရာကင်းလွတ်ခွင့်နှင့် သက်သာခွင့်များကို ခံစားခွင့်ပြုပါရန် တင်ပြထားပါသည်။

၁၇။ အဆိုပြုချက်စိစစ်ရေးအဖွဲ့၏ ၂၀၁၅ ခုနှစ် နိုဝင်ဘာလ ၉ ရက်နေ့ တွင် ကျင်းပပြုလုပ်သည့် ၄၁/၂၀၁၅ ကြိမ်မြောက် အစည်းအဝေးသို့ တင်ပြခဲ့ပြီးဖြစ်ပါသည်။

**ဆုံးဖြတ်ရန်အချက်**

၁၈။ Myanmar Belle Co., Ltd. (Incorporated in Myanmar) မှ ၃၀%၊ Kyoka Shokuhin Co., Ltd. မှ ၃၀% (Incorporated in Japan)၊ Shin-Shin Foods Co., Ltd. မှ ၃၀% (Incorporated in Japan) Retail Branding Co., Ltd. မှ ၅% (Incorporated in Japan) နှင့် ထိုင်ဝမ်နိုင်ငံမှ စီးပွားရေးလုပ်ငန်းရှင် Mr.Yu Te Yang ၅% တို့ အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှုဖြင့် ကွင်းအမှတ်(၁၇၀၉)၊ ဘိုးပြောင်ကုန်း၊ မြို့ရှောင်လမ်းမကြီးဘေးရှိ၊ ကျီအင်းကျေးရွာအုပ်စု၊ ပျဉ်းမနားမြို့နယ်၊ ဒက္ခိဏခရိုင်၊ နေပြည်တော်ရှိ ဦးပိုင်အမှတ် (ကၣ/၁၄၊ ကၣ/၂၄၊ က၉/၁၊ က၉/၂၊ က၉/၃၊ က၉/၄၊ က၉/၅၊ ခ၉/၂၊ ခ၉/၃၊ ခ၁၀/၁၊ ခ၁၀/၂)ရှိမြေ(၁၆.၈၉)ဧကတွင် ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်း လုပ်ငန်းကို ဖက်စပ်နိုင်ငံခြား ရင်းနှီးမြှုပ်နှံမှု ဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုချက် တင်ပြခြင်း အပေါ် သဘောတူ-မတူ။

ဥက္ကဋ္ဌ(ကိုယ်စား)
(မြသူဇာ၊ တွဲဖက်အတွင်းရေးမှူး)

မိတ္တူ

ရုံးလက်ခံ/မျှောစာတွဲ

ကုမ္ပဏီဒါရိုက်တာနှင့် အစုရှင်များ၏ နေရပ်လိပ်စာစာရင်း

| စဉ် | ကုမ္ပဏီအမည် | ဒါရိုက်တာ/ အစုရှင်များ၏ အမည် | ဒါရိုက်တာ/ အစုရှင်များ၏ ဆက်သွယ်ရန် လိပ်စာ |
|---|---|---|---|
| ၁။ | Myanmar Agri Foods Company Limited. | Kyokashokuhin Co., Ltd.<br>Represented by: | |
| | | (၁) Mr.Jazuhiko kagawa<br>Chairman<br>Myanmar<br>P.P No TH 4605540 | No. 2-205,1-43-2, Mikaga Chou Chkusa-Ku Nagoya City, Aichi Prefecyure Japan. |
| | | Shin-ShinFoodsCo.,Ltd<br>Represented by: | |
| | | (၃) Mr.Kagoshima Masanao<br>Vice Chairman<br>Japan<br>TH 1116132 | 1-10-2-3504,Higashi-shinbashi, Minato-ku, Tokyo, Japan. |
| | | Myanmar Belle Co ., Ltd.<br>Represented by: | |
| | | (၁) U Ye Myint Maung<br>President<br>Myanmar<br>14/MaMa Na (Naing)150186 | No. (25), (109)Street, Taung Nyunt Gyi Ward, Mingalar Taung Nyunt Tsp, Yangon. |
| | | Retail Branding Co., Ltd<br>Represented by: | |
| | | (၃) Mr.Yukihiro Akimoto<br>Director<br>Japan<br>P.P.No TK 4298233 | 1-2-20,Kamiyoga, Setagaya-ku, Tokyo, Japan. |
| | | (4) Mr.Yu Te Yang<br>Director<br>Japan<br>P.P.No TK 302431586 | No.33, Jin Wu Road, Neighbourhood 18, Sinsing Village,Fengshan District, Kaohsiung City Taiwon. |

၁။ ဆက်သွယ်ရမည့် တယ်လီဖုန်းနံပါတ်၊ ဖက်စ်နံပါတ် - ဦးအောင်ကျော်မိုး (၀၉-၅၄၀၈၁၀၉၅)

၂။ ဆက်သွယ်ရမည့် လိပ်စာအပြည့်အစုံ - အမှတ်(၂၇)၊သုမင်္ဂလာအိမ်ရာ(၁)၊ သုနန္ဒာလမ်း၊စံ/သုမင်္ဂလာရပ်ကွက်၊သင်္ဃန်းကျွန်းမြို့နယ်၊ရန်ကုန်မြို့။

| | | |
|---|---|---|
| ၃။ | ဆက်သွယ်ရမည့် ပုဂ္ဂိုလ်အမည်၊ ရာထူး | - ဦးရဲမြင့်မောင်(မန်နေဂျင်းဒါရိုက်တာ) |
| ၄။ | ကုမ္ပဏီအနေဖြင့်ဆောင်ရွက်သည့်လုပ်ငန်းများ | - ဟင်းသီးဟင်းရွက်အား အေးခဲ ထုတ်လုပ်၍ ဖြန့်ဖြူး ရောင်းချခြင်းလုပ်ငန်း |
| ၅။ | ကုမ္ပဏီမှတ်ပုံတင်အမှတ်/ နေ့စွဲ | - ၁၀၇၉ FC / ၂၀၁၄-၂၀၁၅ (၂၉-၁-၂၀၁၅) |
| ၆။ | ကုမ္ပဏီမှတ်ပုံတင်ကုန်ဆုံးသည့်နေ့စွဲ | - - |
| ၇။ | ဘဏ်အမည်နှင့် ဘဏ်စာရင်းအမှတ် | - - |

ကန့်သတ်
၁၄

နောက်ဆက်တွဲ-ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်
နေပြည်တော်ကောင်စီ

စာအမှတ်၊ ၇ / ၁ - ၂၀ ( ၅၆၄ )/ ဦး (
ရက် စွဲ ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၁၊ ရက်

သို့

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက် တောင်းခံလာခြင်းကိစ္စ**

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈-၁၁-၂၀၁၅)ရက်စွဲပါစာအမှတ်၊ ရက-၂ / န - ၁၃၉ / ၂၀၁၅ (၈၇၉)

၁။ အကြောင်းအရာပါကိစ္စနှင့်ပတ်သက်၍ Myanmar Belle Co,Ltd. (Incorporated in Myanmar) မှ ၃၀%၊ Kyoka Shokuhin Co,Ltd. မှ ၃၀% (Incorporated in Japan)၊ Shin Shin Foods Co,Ltd. မှ ၃၀% (Incorporated in Japan)၊ Retail Branding Co,Ltd. မှ ၅% (Incorporated in Japan)နှင့် ထိုင်ဝမ်နိုင်ငံမှ စီးပွားရေးလုပ်ငန်းရှင် Mr. Yu Te Yang မှ ၅% အစုရှယ်ယာများ ထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar Agri Foods Co,Ltd တည်ထောင်၍ ငှားရမ်းထားသည့် ပျဉ်းမနားမြို့နယ်၊ ကျီးအင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၀၀၉၊ ကွင်းအမည်-ဘိုးပြောင်ကုန်း၊ မြို့ရှောင်လမ်းမကြီးဘေးရှိ မြေဧရိယာ(၁၆.၈၉)ဧကပေါ်တွင် ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် Myanmar Agri Foods Co,Ltd မှ တင်ပြလာမှုနှင့်စပ်လျဉ်း၍ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် ညှိနှိုင်းမေတ္တာရပ်ခံလာပါသည်။

၂။ သို့ဖြစ်ပါ၍ ရင်းနှီးမြှုပ်နှံမည့် Myanmar Agri Foods Co,Ltd မှ အဆိုပြုတင်ပြလာမှုအပေါ် သဘောထားမှတ်ချက်အား အောက်ပါအတိုင်း ပြန်ကြားအပ်ပါသည်-

(က) ရင်းနှီးမြှုပ်နှံမှုပြုမည့်နေရာသည် မြို့ပြစီမံကိန်းနှင့်ညီညွတ်မှုရှိပါသည်၊

(ခ) ပြည်သူတို့၏ လူမှုစီးပွားရေးကို ထိခိုက်မှုမရှိပါ၊

(ဂ) မြို့နယ်ဒေသ အလုပ်အကိုင်အခွင့်အလမ်းနှင့် ဒေသစီးပွားရေး ဖွံ့ဖြိုးတိုးတက်မှုအတွက် အထောက်အကူပြုပါသည်၊

(ဃ) Myanmar Agri Foods Co,Ltd မှ ပျဉ်းမနားမြို့နယ်၊ ကျီးအင်းကျေးရွာအုပ်စု၊ ကွင်းအမှတ်-၁၀၀၉၊ ကွင်းအမည်-ဘိုးပြောင်ကုန်း၊ မြို့ရှောင်လမ်းမကြီးဘေးရှိ မြေဧရိယာ (၁၆.၈၉)ဧကပေါ်တွင် ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းအား မြန်မာနိုင်ငံသားများ ရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြခြင်းအပေါ် အဆင့်ဆင့်စိစစ်ခဲ့ပြီး မြေနေရာများအား စနစ်တကျခွင့်ပြုခဲ့မှုကြောင့် နေပြည်တော်ကောင်စီအနေဖြင့် ကန့်ကွက်ရန်မရှိပါ။

ဝ၁ ၃ း ၈ (၃၆၁၅) ၃၅၁

၃။ နေပြည်တော်ကောင်စီဥက္ကဋ္ဌသည် နေပြည်တော်ကောင်စီနယ်မြေအတွင်း ဒေသဖွံ့ဖြိုးရေးလုပ်ငန်းများဆောင်ရွက်ရန် ခရီးသွားနေပါသဖြင့် ဥက္ကဋ္ဌကိုယ်စား လက်မှတ်ရေးထိုးခြင်းဖြစ်ပါကြောင်း တင်ပြအပ်ပါသည်။

ဥက္ကဋ္ဌ ( ကိုယ်စား )
( ကံချွန်၊ ကောင်စီဝင် )

မိတ္တူကို
လှည့်လည်စာတွဲ
ရုံးလက်ခံ

ကန့်သတ်

၁၆

နောက်ဆက်တွဲ- [illegible]

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သစ်တောရေးရာဝန်ကြီးဌာန
ပြည်ထောင်စုဝန်ကြီးရုံး

MIC 1-8 7/12

စာအမှတ် ၃(၂)/၁၆(ဃ)(၁)/(၃၃၇၈ /၂၀၁၅)
ရက်စွဲ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၂ ရက်

သို့

✓ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ <u>သဘောထားမှတ်ချက်ပြန်ကြားခြင်း</u>

ရည်ညွှန်းချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈ - ၁၁ - ၂၀၁၅ ရက်စွဲပါစာအမှတ်၊ ရက - ၂ / န - ၁၃၉ / ၂၀၁၅ (၈၉၀)

၁။ Myanmar Belle Co., Ltd. ( Incorporated in Myanmar ) မှ ၃၀ %၊ Kyoka Shokuhin Co., Ltd. (Incorporated in Japan) မှ ၃၀ %၊ Shin-Shin Foods Co., Ltd. (Incorporated in Japan) မှ ၃၀ %၊ Retail Branding Co., Ltd. မှ ၅ % ( Incorporated in Japan) နှင့် ထိုင်ဝမ်နိုင်ငံမှ စီးပွားရေးလုပ်ငန်းရှင် Mr.Yu Te Yang မှ ၅ % အစုရှယ်ယာများ ထည့်ဝင်၍ မြန်မာနိုင်ငံတွင် ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် Myanmar Agri Foods Co., Ltd. တည်ထောင်ကာ ငှားရမ်းထားသည့် ကွင်းအမှတ်(၁၇၀၉)၊ ဘိုးပြောင်ကုန်း၊ မြို့ရောင်လမ်းမကြီးဘေးရှိ ကျီအင်းကျေးရွာ၊ ပျဉ်းမနားမြို့နယ်၊ ဒက္ခိဏခရိုင်၊ နေပြည်တော်ရှိ စုစုပေါင်း မြေ ၁၆.၈၉ ဧက အားငှားရမ်း၍ ဟင်းသီးဟင်းရွက်များအေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေ နှင့် အညီ ဆောင်ရွက်ခွင့်ပြုရန် ကိစ္စနှင့် ပတ်သက်၍ စိစစ်ပြီး ဌာနဆိုင်ရာ သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါ လုပ်ငန်း နှင့် ပတ်သက်၍ စိစစ်ရာတွင် စားသောက်ကုန်များကို ထုပ်ပိုးခြင်းမှ ထွက်ရှိလာမည့် စွန့်ပစ်ပစ္စည်းများအား စနစ်တကျ စီမံခန့်ခွဲခြင်း မရှိပါက လေထု ၊ မြေထု နှင့် ရေထုကို ညစ်ညမ်းစေနိုင်ပါသည်။ ထို့အပြင် အအေးပေးသည့်စက်ကိရိယာများမှ ထွက်ရှိလာမည့် အခိုးအငွေ့များကြောင့် ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်မှုပြဿနာများ ဖြစ်ပေါ်စေနိုင်ကြောင်း စိစစ်တွေ့ရှိရပါသည်။

၃။ သို့ဖြစ်ပါ၍ Myanmar Agri Foods Co., Ltd. မှ ဟင်းသီးဟင်းရွက်များအား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် အဆိုပြုတင်ပြလာခြင်းနှင့်ပတ်သက်၍ အောက်ဖော်ပြပါအတိုင်း လိုက်နာဆောင်ရွက်ရန် လိုအပ်မည်ဖြစ်ပါကြောင်း သဘောထားမှတ်ချက် ပြန်ကြားအပ်ပါသည်-

(က) အဆိုပြုလုပ်ငန်းကြောင့်ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင် နှင့် လူမှုရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရေးအတွက် စီမံကိန်းဆိုင်ရာ အချက်အလက်များ ပြည့်စုံစွာဖော်ပြပြီးလုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိခိုက်မှုအနည်းဆုံး

ဖြစ်စေမည့် ကုန်ထုတ်လုပ်မှု နည်းစနစ်များ အသုံးပြုခြင်း နှင့် အဆိုပြုလွှာတွင် ပါဝင်သည့် လူမှုရေးဆိုင်ရာ တာဝန်ခံမှု ( CSR ) လုပ်ငန်းများအတွက် စုစုပေါင်း အမြတ်ငွေ၏ (၂ %) အား အသုံးပြုရန်အပါအဝင် ကတိကဝတ်များနှင့် လုပ်ငန်း စီမံချက်များအတိုင်း အကောင်အထည်ဖော် ဆောင်ရွက်သွားရန်၊

(ခ) စီမံကိန်းလုပ်ငန်း ဆောင်ရွက်မှုကြောင့် ဖြစ်ပေါ်လာနိုင်သည့် ပတ်ဝန်းကျင်၊ လူမှုရေး နှင့် ကျန်းမာရေး ထိခိုက်ပျက်စီးမှုများ လျော့နည်းစေရန်အတွက် လုပ်ငန်း အကောင်အထည် မဖော်မီ ကနဦး ပတ်ဝန်းကျင် ဆန်းစစ်ခြင်း ( Initial Environmental Examination - IEE) ဆောင်ရွက်ရန် နှင့် IEE အစီရင်ခံစာ တင်ပြရန်၊

(ဂ) အထက်ပါ လေ့လာဆန်းစစ်မှုရလဒ်များကိုအခြေခံ၍ ပတ်ဝန်းကျင် နှင့် လူမှုရေး ဆိုင်ရာ ထိခိုက်မှု အနည်းဆုံးဖြစ်စေသည့် လုပ်ငန်းဆောင်ရွက်မည့် အစီအစဉ်၊ စွန့်ပစ်ပစ္စည်း / စွန့်ပစ်အရည်များ စီမံခန့်ခွဲမှု အစီအစဉ် ၊ စောင့်ကြည့်လေ့လာမည့် အစီအစဉ် ၊ ပတ်ဝန်းကျင် ထိခိုက်မှု လျော့ပါးရေး ဆောင်ရွက်မည့် လုပ်ငန်းများ အတွက် သုံးစွဲမည့် ရန်ပုံငွေ စသည်တို့ ပါဝင်သည့် ပတ်ဝန်းကျင် စီမံခန့်ခွဲမှု အစီ အစဉ် ( Environmental Management Plan - EMP ) ရေးဆွဲတင်ပြရန် နှင့် EMP အစီအစဉ်ပါအတိုင်း အကောင်အထည်ဖော်ဆောင်ရွက်ရန်၊

(ဃ) ပြဋ္ဌာန်းထားသည့် ပတ်ဝန်းကျင်ထိန်းသိမ်းရေးဆိုင်ရာ ဥပဒေ ၊ နည်းဥပဒေ၊ လုပ်ထုံးလုပ်နည်း၊ စည်းမျဉ်းစည်းကမ်းများနှင့်အညီ လိုက်နာကျင့်သုံး အကောင် အထည်ဖော် ဆောင်ရွက်ရန်။

၂/၇၂

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
( မျိုးညွန့် ၊ ဒုတိယအမြဲတမ်းအတွင်းဝန် )

မိတ္တူကို
ညွှန်ကြားရေးမှူးချုပ်
ရင်းနှီးမြှုပ်နှံမှုနှင့်ကုမ္ပဏီများညွှန်ကြားမှုဦးစီးဌာန
ညွှန်ကြားရေးမှူးချုပ်
ပတ်ဝန်းကျင်ထိန်းသိမ်းရေးဦးစီးဌာန

ကန့်သတ်
၁၈

နောက်ဆက်တွဲ - ဂ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
လယ်ယာစိုက်ပျိုးရေးနှင့်ဆည်မြောင်းဝန်ကြီးဌာန
ဝန်ကြီးရုံး

စာအမှတ်၊ ၁၁ / Agri Foods ( ၆၁၉ /၂၀၁၅)
ရက်စွဲ၊ ၂၀၁၅ ခုနှစ် ၊ ဒီဇင်ဘာလ ၄ ရက်

သို့
မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်

အကြောင်းအရာ။ **သဘောထားမှတ်ချက်တောင်းခံခြင်းကိစ္စ**

ရည်ညွှန်းချက် ။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ (၁၈.၁၁.၂၀၁၅) ရက်စွဲပါစာအမှတ်၊ ရကျ-၂/န-၁၃၉/၂၀၁၅ (၈၉၂)

၁။ Myanmar Belle Co., Ltd. (Incorporated in Myanmar) မှ (၃၀) ရာခိုင်နှုန်း၊ Kyoka Shokuhin Co., Ltd. မှ (၃၀) ရာခိုင်နှုန်း (Incorporated in Japan)၊ Shin-Shin Foods Co., Ltd. မှ (၃၀) ရာခိုင်နှုန်း (Incorporated in Japan)၊ Retail Branding Co., Ltd. မှ (၅) ရာခိုင်နှုန်း (Incorporated in Japan) နှင့် ထိုင်ဝမ်နိုင်ငံမှ စီးပွားရေးလုပ်ငန်းရှင် Mr. Yu Te Yang မှ (၅) ရာခိုင်နှုန်း အစုရှယ်ယာများထည့်ဝင်ကာ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် မြန်မာနိုင်ငံတွင် Myanmar Agri Foods Co., Ltd. တည်ထောင်၍ ဌားရမ်းထားသည့် ကွင်းအမှတ် (၁၇၀၉)၊ ဘိုးပြောင်ကုန်း၊ မြို့ရှောင်လမ်းမကြီးဘေးရှိ၊ ကျီအင်းကျေးရွာ၊ ပျဉ်းမနားမြို့နယ်၊ ဒက္ခိဏခရိုင်၊ နေပြည်တော်ရှိ စုစုပေါင်းမြေ (၁၆.၈၉)ဧကအနက်မှ ယင်းမြေပေါ်ရှိ ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်းကို နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေနှင့်အညီ ဆောင်ရွက်ခွင့်ပြုပါရန် မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှု ကော်မရှင်သို့ အဆိုပြုတင်ပြလာသည့်ကိစ္စနှင့်စပ်လျဉ်း၍ သက်ဆိုင်ရာဌာနများ၏ သဘောထားမှတ်ချက်များကို စာလက်ခံရရှိသည့် နေ့မှစ၍ ခုနစ်ရက်အတွင်း ပြန်ကြားပေးပါရန် ရည်ညွှန်းပါစာဖြင့် မေတ္တာရပ်ခံလာပါသည်။

၂။ အဆိုပါကိစ္စနှင့်ပတ်သက်၍ တင်ပြလာသောမြေနေရာပေါ်တွင် ၂၀၁၂ ခုနှစ် လယ်ယာမြေဥပဒေပုဒ်မ (၃၀) ပုဒ်မခွဲ (ခ)အရ လယ်မြေမှတစ်ပါး အခြားနည်းအသုံးပြုရန် ခွင့်ပြုမိန့်ရရှိပြီးဖြစ်သည့်အတွက် ခွင့်ပြုချက်နှင့်အညီ ဆက်လက်ဆောင်ရွက်ရန်ဖြစ်ကြောင်း နှင့် လယ်ယာစိုက်ပျိုးရေးနှင့် ဆည်မြောင်းဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

ဒုတိယဝန်ကြီး(ကိုယ်စား)
(သက်နိုင်ဦး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

ကန့်သတ်
၁၉

နောက်ဆက်တွဲ-ဃ

ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်အစိုးရ
**စက်မှုဝန်ကြီးဌာန**

၁၀၊ ၅ / ၇/၁၂

စာအမှတ်၊ ၂၁- စမ(၂)၂၀၁၅-၂၀၁၆(၂၉၇၈)
ရက် စွဲ၊ ၂၀၁၅ ခုနှစ်၊ ဒီဇင်ဘာလ ၃ ရက်

သို့

**မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်ရုံး**

အကြောင်းအရာ။ **သဘောထားမှတ်ချက်ပြန်ကြားခြင်း**

ရည် ညွှန်း ချက်။ မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်၏ ၁၈.၁၁.၂၀၁၅ ရက်စွဲပါ စာအမှတ်၊ ရက-၂/ န-၁၃၉ / ၂၀၁၅ (၈၉၁)

၁။ Myanmar Agri Foods Co.,Ltd. မှ ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဖြင့် နေပြည်တော်၊ ဒက္ခိဏခရိုင်၊ ပျဉ်းမနားမြို့နယ်၊ ကျီအင်းကျေးရွာ၊ မြို့ရှောင်လမ်းမကြီးဘေးရှိ ဘိုးပြောင်ကုန်း၊ ကွင်းအမှတ်(၁၇၀၉)တွင် ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ခွင့်ပြုပါရန် တင်ပြလာခြင်းအပေါ် သဘောထားမှတ်ချက် ပြန်ကြားပေးပါရန် ရည်ညွှန်းချက်ပါစာဖြင့် အကြောင်းကြားလာပါသည်။

၂။ အဆိုပါကုမ္ပဏီမှဆောင်ရွက်မည့်လုပ်ငန်းနှင့်ပတ်သက်၍ အောက်ပါအတိုင်း စိစစ်တွေ့ရှိရပါသည်-

(က) ဖက်စပ်နိုင်ငံခြားရင်းနှီးမြှုပ်နှံပြီး ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်မည် ဖြစ်ပါသည်။

(ခ) လျှပ်စစ်သွယ်တန်းအသုံးပြုမှုကို လျှပ်စစ်ဥပဒေနှင့်အညီ အသုံးမပြုမီ စစ်ဆေးဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဂ) မီးဘေးအန္တရာယ်ကင်းဝေးစေရေးနှင့် ပတ်ဝန်းကျင်ညစ်ညမ်းမှုမဖြစ်ပေါ်စေရေးတို့အတွက် သက်ဆိုင်ရာဌာနများ၏ စိစစ်ချက်ဖြင့် စနစ်တကျ ဆောင်ရွက်ရန် လိုအပ်ပါသည်။

(ဃ) ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့်အညီ စက်မှုမှတ်ပုံတင် လျှောက်ထားဆောင်ရွက်ရန် လိုအပ်ပါသည်။

(င) အစားအသောက်နှင့် ဆေးဝါးကွပ်ကဲရေးဦးစီးဌာန၏ ညွှန်ကြားချက်နှင့်အညီ လိုက်နာဆောင်ရွက်ရန် လိုအပ်ပါသည်။

(စ) ပြည်ပမှတင်သွင်းမည့် စက်ပစ္စည်းများစာရင်းအမှတ်စဉ်(၁၅)တွင် Sub Total of Above Indirect Cost ဟု ထည့်သွင်းဖော်ပြထားမှုမှာ ဆီလျော်မှု မရှိပါသဖြင့် ပယ်ဖျက်ဆောင်ရွက်သင့်ပါသည်။

(ဆ) ကျန်စက်ပစ္စည်းများမှာ ထုတ်လုပ်မှုအတွက် ဆီလျော်မှု ရှိပါသည်။

၃။ သို့ပါ၍ Myanmar Agri Foods Co.,Ltd. မှ CMP စနစ်ဖြင့် ဟင်းသီးဟင်းရွက်အား အေးခဲထုတ်လုပ်၍ ဖြန့်ဖြူးရောင်းချခြင်းလုပ်ငန်း ဆောင်ရွက်ရာတွင် အထက်ပါ လိုအပ်ချက်များအား ဖြည့်ဆည်းဆောင်ရွက်ပြီး နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေ၊ ပုဂ္ဂလိကစက်မှုလုပ်ငန်းဥပဒေနှင့် တည်ဆဲဥပဒေလုပ်ထုံး လုပ်နည်းများနှင့်ညီညွတ်ပါက ဤဝန်ကြီးဌာနအနေဖြင့် ကန့်ကွက်ရန်မရှိပါကြောင်း ပြန်ကြားအပ်ပါသည်။

၃. ၅. ၁၅

ပြည်ထောင်စုဝန်ကြီး(ကိုယ်စား)
(လှမိုး၊ ဒုတိယအမြဲတမ်းအတွင်းဝန်)

မိတ္တူကို

စက်မှုကြီးကြပ်ရေးနှင့်စစ်ဆေးရေးဦးစီးဌာန

မြန်မာ့ဆေးဝါးလုပ်ငန်း